ကုမ္ပဏီအမည် - **MEF International Co., Ltd.**

လုပ်ငန်း - **ကဏန်းပျော့မွေးမြူထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
| --- | --- | --- | --- | --- |
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၂၇-၁၀-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး၃/၂၀၁၇ သို့ တင်ပြခြင်း | ၇-၁၁-၂၀၁၇ | | |
| ၃ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၉-၁၁-၂၀၁၇ | | |
| | (ခ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၉-၁၁-၂၀၁၇ | | |
| | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၉-၁၁-၂၀၁၇ | | |
| | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၀-၁၁-၂၀၁၇ | | |
| ၄ | ကော်မတီအစည်းအဝေးသို့တင်ပြခြင်း (၄/၂၀၁၇) ARIC | ၂၁-၁၁-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၄၈ ရက်** | | | |

**MEF International Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့်
ကဏန်းပျော့မွေးမြူထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်းအား
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ
အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းနှင့်စပ်လျဉ်း၍
တင်ပြရန်လိုအပ်သည့်အချက်အလက်များ**

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ တင်ပြရန်လိုအပ်ချက် | ဆောင် ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | MEF International Co., Ltd. | ကဏန်းပျော့ မွေးမြူထုတ် လုပ်တင်ပို့ ရောင်းချခြင်း လုပ်ငန်း | ၃/၂၀၁၇ (၇-၁၀-၂၀၁၇) | (က)မြေအသုံးပြုမှု ပြောင်းလဲခြင်း အတွက် သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ထောက်ခံချက် | ဆောင်ရွက် ဆဲ | |

အကြောင်းအရာ။ **MEF International Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့မွေးမြူထုတ်လုပ် တင်ပို့ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - MEF International Co., Ltd.<br>- ဦးကျော်လင်းထွန်း<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ကဏန်းပျော့မွေးမြူထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာ မြို့သစ်၊ (၂)ရပ်ကွက်၊ ဦးပိုင်လမ်း၊ ကွင်းအမှတ် ၅၈၀၊ ကျောက်မော်တောင်၊ ဦးပိုင်အမှတ် C-၁၀၊ C-၁၁ ရှိမြေ ၃.၆၇၃ ဧက |
| ၃။ | မြေပိုင်ရှင်<br>အကျယ်အဝန်း<br>မြေ/အဆောက်အအုံငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ဦးမျိုးမင်းလှိုင်<br>- မြေဧရိယာ ၃.၆၇၃ ဧက<br>- ခရိုင်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာနသို့ လယ်ယာမြေအခြားနည်းအသုံးပြုခွင့်တင်ပြထားဆဲဖြစ်ပါသည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - တင်ပြထားခြင်းမရှိပါ။ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား<br>(က)ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း<br>(ခ)နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း<br>**စုစုပေါင်း** | (see table below) |
| ၇။ | အခြားတင်ပြချက် | (က)လယ်ယာမြေ အခြားနည်း အသုံးပြုခွင့် လျှောက်ထားဆဲ အထောက်အထားများ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်း မျဉ်းသင်းဖွဲ့မှတ်တမ်းတို့ကို ပူးတွဲတင်ပြထားပါသည်။<br>(ခ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ်နှင့် လုပ်ခလစာကိုအောက်ပါအတိုင်းတင်ပြထားပါသည်-<br>**စုစုပေါင်း** ၁၆၉ ဦး<br>ပြည်တွင်း- ၁၆၉ ဦး(တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ၊အမြင့်ဆုံး လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။) |

Item ၆ amounts:

| US$ | ကျပ်သန်း | ရာခိုင်နှုန်း |
|---|---|---|
| - | ၅၀၀.၀၀ | ၁၀၀% |
| - | - | - |
| - | ၅၀၀.၀၀ | - |

| | | |
|---|---|---|
| | | ပြည်ပ - ခန့်ထားခြင်းမရှိပါ။<br>(ဂ) ငွေကြေး အထောက်အထားအဖြစ် ဦးမျိုးမင်းလှိုင် အမည်ဖြင့် Global Treasure Bank Ltd. တွင် (၂၄-၈-၂၀၁၇) ရက်နေ့၌ USD ၂၄၅၂၀ ရှိကြောင်း တင်ပြထားပါသည်။<br>(ဃ) ကုမ္ပဏီ၏ နှစ်အလိုက်ထုတ်လုပ် ရောင်းချနိုင်မှုအခြေအနေကို အောက်ပါအတိုင်းတင်ပြထားပါသည်- |

| ဘဏ္ဍာနှစ် | Qty(MT) |
|---|---|
| ၂၀၁၄-၂၀၁၅ | ၉ |
| ၂၀၁၅-၂၀၁၆ | ၉.၆ |
| ၂၀၁၆-၂၀၁၇ | ၇ |

| | | |
|---|---|---|
| ၈။ | **စိစစ်တင်ပြချက်** | (က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်နိုင်သည့် လုပ်ငန်းဖြစ်ကြောင်း စိစစ်ရပါသည်။<br>(ခ) အဆိုပြုလုပ်ငန်းသည် ၂၀၁၄ ခုနှစ်မှစတင်ဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းဖြစ်ပြီး ဝင်ငွေခွန်ကင်းလွတ်ခွင့် သက်သာခွင့် ခံစားရရှိနိုင်ခြင်း မရှိပါကြောင်း စိစစ်ရပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် လပွတ္တာခရိုင်၊ လပွတ္တာမြို့ မြို့နယ်သည် ဖွံ့ဖြိုးမှုနည်းပါးသော ဒေသဇုန် (၁) တွင် ပါဝင်ပါသည်။<br>(ဃ) ပြည်ပမှ အမေရိကန်ဒေါ်လာ ၆၈၀၀ တန်ဖိုးရှိ လုပ်ငန်း သုံးပစ္စည်းများ တင်သွင်းဆောင်ရွက်မည်ဖြစ်ပါသည်။<br>(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍ မြေပိုင်ဆိုင်မှု မြေဂရန် အထောက်အထား (စက်မှုဇုန်မှအပ)နှင့် မြေပုံ ပူးတွဲတင်ပြရန် နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၁၇ (ဂ) အရ ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ရန် မြေအသုံးချမှု ပြောင်းလဲခြင်းအတွက် အဆိုပြုချက်အား အတည်ပြုပေးမည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရ သို့မဟုတ် အခြားအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံမှ ရယူသည့် ထောက်ခံစာ သို့မဟုတ် အလားတူ စာရွက်စာတမ်း သို့မဟုတ် ခွင့်ပြုချက် တင်ပြပေးရန် လိုအပ်မည်ဖြစ်ပါသည်။<br>(စ) ကုမ္ပဏီမှမြေ အသုံးပြုခွင့် လျှောက်ထားလွှာ နှင့်အခွန် အကောက် ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာ ပူးတွဲ တင်ပြ ထားပါသည်။ |




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

စာအမှတ်၊ ဧရက/အ-၁၀၈(မွေး/ရေ)/ရင်း(၁)/၂၀၁၇( ၀၉၆ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၁၄ ရက်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **MEF International Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့မွေးမြူထုတ်လုပ် တင်ပို့ရောင်းချခြင်းလုပ်ငန်း အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ MEF International Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာ မြို့သစ်၊ (၂)ရပ်ကွက်၊ ဦးပိုင်လမ်း၊ ကွင်းအမှတ် ၅၈၀၊ ကျောက်မော်တောင်၊ ဦးပိုင်အမှတ် C-၁၀၊ C-၁၁ ရှိမြေ ၃.၆၇၃ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့ မွေးမြူ ထုတ်လုပ် တင်ပို့ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာပါသည်။

၂။ MEF International Co., Ltd. ၏ဒါရိုက်တာ ဦးမျိုးမင်းလှိုင် အမည်ဖြင့် လပွတ္တာ မြို့နယ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာနသို့ လယ-၃၀(က) လျှောက်ထားဆဲ အထောက်အထား၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်းမျဉ်းသင်းဖွဲ့ မှတ်တမ်းတို့ကို ပူးတွဲ တင်ပြထားပါသည်။

၃။ ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာ မြို့သစ်၊ (၂)ရပ်ကွက်၊ ဦးပိုင်လမ်း၊ ကွင်း အမှတ် ၅၈၀၊ ကျောက်မော်တောင်၊ ဦးပိုင်အမှတ် C-၁၀၊ C-၁၁ ရှိမြေ ၃.၆၇၃ ဧကတွင် အဆိုပြု လုပ် ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ လုပ်ငန်းသက်တမ်း ကာလမှာ ၃၀ နှစ် ဖြစ်ပြီး လုပ်ငန်းစတင်လည်ပတ်ပြီးဖြစ်၍ တည် ဆောက်ရေးကာလ လိုအပ်ခြင်းမရှိပါကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်း ၅၀၀ ဖြစ်၍ အောက်ပါအတိုင်း ထည့်ဝင် မည်ဖြစ်ပါသည်-

| **ရင်းနှီးမြှုပ်နှံမှုပမာဏ** | **ကျပ်(သန်းပေါင်း)** |
|---|---|
| ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ | ၅၀၀.၀၀ |
| နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ | - |
| **စုစုပေါင်း** | **၅၀၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ဦးရေ(၁၆၉)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ နှင့် ပြည်ပဝန်ထမ်းခန့်အပ်ထားခြင်းမရှိကြောင်း တင်ပြထားပါသည်။

၇။ ကုမ္ပဏီ၏ နှစ်အလိုက် ကဏန်းပျော့ထုတ်လုပ် ရောင်းချနိုင်မှု အခြေအနေကို အောက်ပါအတိုင်း တင်ပြထားပါသည်-

| ဘဏ္ဍာနှစ် | Qty(MT) |
|---|---|
| ၂၀၁၄-၂၀၁၅ | ၉ |
| ၂၀၁၅-၂၀၁၆ | ၉.၆ |
| ၂၀၁၆-၂၀၁၇ | ၇ |

၈။ အဆိုပြုလုပ်ငန်း နှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ သဘောထားမှတ်ချက်ပြန်ကြားလာခြင်း မရှိသေးပါ။

(ခ) **ဧရာဝတီတိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန**မှ ကဏန်းပျော့မွေးမြူထုတ်လုပ်ပြီး ပြည်ပသို့တင်ပို့ရောင်းချသည့် လုပ်ငန်းအနေဖြင့် လုပ်ငန်းလည်ပတ် ဆောင်ရွက်နေသည်မှာ (၃/၄)နှစ်ခန့်ကြာပြီဖြစ်သည့်အပြင် အနောက်နိုင်ငံများသို့ တင်ပို့၍ စံချိန်စံညွှန်းဆိုင်ရာများ ရယူဆောင်ရွက်နေရသည့် လုပ်ငန်းဖြစ်သဖြင့် ပတ်ဝန်းကျင်နည်းဥပဒေ (၅၅)နှင့်အညီ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြအတည်ပြုချက်ရယူပြီး အကောင်အထည်ဖော်ဆောင်ရွက်ရန် မှတ်ချက်ပြုထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် ဦးမျိုးမင်းလှိုင် အမည်ဖြင့် Global Treasure Bank Ltd. တွင် (၂၄-၈-၂၀၁၇) ရက်နေ့၌ USD ၂၄၅၂၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ MEF International Co., Ltd. မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး အစီအစဉ်၊ မီးဘေးအန္တရာယ်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံဆောင်ရွက်မည့် အစီအစဉ်၊ CSR အစီအစဉ်များကိုတင်ပြထားပါသည်။

၁၁။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရ ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်နိုင်သည့် လုပ်ငန်းဖြစ်ကြောင်း စိစစ်ရပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ၂၀၁၄ ခုနှစ်မှစတင်ဆောင်ရွက်လျက် ရှိသည့် လုပ်ငန်းဖြစ်ပြီး ဝင်ငွေခွန်ကင်းလွတ်ခွင့် သက်သာခွင့် ခံစားရရှိနိုင်ခြင်း မရှိပါကြောင်း စိစစ်ရပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ် သည် ဖွံ့ဖြိုးမှုနည်းပါးသော ဒေသဇုန် (၁) တွင် ပါဝင် ပါသည်။

(ဃ) ပြည်ပမှ အမေရိကန်ဒေါ်လာ ၆၈၀၀ တန်ဖိုးရှိ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍ မြေ ပိုင်ဆိုင်မှု မြေဂရန် အထောက်အထား (စက်မှုဇုန်မှအပ)နှင့် မြေပုံ ပူးတွဲတင်ပြရန် နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်း ဥပဒေ ၁၁၇ (ဂ) အရ ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ရန် မြေအသုံး ချမှု ပြောင်းလဲခြင်းအတွက် အဆိုပြုချက်အား အတည်ပြုပေးမည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရ သို့မဟုတ် အခြားအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံမှ ရယူသည့် ထောက်ခံစာ သို့မဟုတ် အလားတူ စာရွက်စာတမ်း သို့မဟုတ် ခွင့်ပြုချက် တင်ပြပေးရန် လိုအပ်မည်ဖြစ်ပါသည်။

(စ) ကုမ္ပဏီမှမြေ အသုံးပြုခွင့် လျှောက်ထားလွှာ နှင့်အခွန် အကောက် ကင်းလွတ်ခွင့် သက် သာခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ MEF International Co., Ltd. မှ ရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာ မြို့သစ်၊ (၂)ရပ်ကွက်၊ ဦးပိုင်လမ်း၊ ကွင်းအမှတ် ၅၈၀၊ ကျောက်မော်တောင်၊ ဦးပိုင်အမှတ် C-၁၀၊ C-၁၁ ရှိမြေ ၃.၆၇၃ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့ မွေးမြူ ထုတ်လုပ် တင်ပို့ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

17/11/2017

ဥက္ကဋ္ဌ(ကိုယ်စား)
(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ